ကုမ္ပဏီအမည် - Well Being Co., Ltd.( ချမ်းသာသုခကုမ္ပဏီလီမိတက်)

လုပ်ငန်း - လယ်ယာထွက်ကုန် ပစ္စည်းများနှင့် ပဲလွန်းဖြူ၊ ပဲတီစိမ်း၊ ဝက်သစ်ချသီး၊ ကော်ဖီစေ့၊ သီဟိုဠ်ဆံများအား ပြုပြင်မွမ်းမံကြိတ်ခွဲ၍ နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၄-၄-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ | | | |
| | (ပထမအကြိမ်) | ၅-၅-၂၀၁၅ | ၂၂-၆-၂၀၁၅ | |
| | (ဒုတိယအကြိမ်) | ၂၈-၅-၂၀၁၅ | | |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | | | |
| | (ပထမအကြိမ်) | ၅-၅-၂၀၁၅ | ၈-၆-၂၀၁၅ | |
| | (ဒုတိယအကြိမ်) | ၂၈-၅-၂၀၁၅ | | |
| | (ဂ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန | ၈-၅-၂၀၁၅ | ၁၂-၅-၂၀၁၅ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၅-၅-၂၀၁၅ | ၁၉-၅-၂၀၁၅ | |
| ၃ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး (၁၄/၂၀၁၅) သို့ တင်ပြခြင်း | ၁၆-၄-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းပြန်ကြားခြင်း | ၃၀-၄-၂၀၁၅ | | |
| ၅ | PAT အစည်းအဝေး ဆုံးဖြတ်ချက် အကြောင်းကြားခြင်း | ၃၀-၄-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၂၈-၅-၁၅ | | |
| ၇ | အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ( /၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၈၂ ရက် | | |

၂

ကုမ္ပဏီအမည် - Well Being Co., Ltd. (ချမ်းသာသုခကုမ္ပဏီလီမိတက်)

အဖွဲ့အစည်းပုံသဏ္ဌာန် - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - လယ်ယာထွက်ကုန်ပစ္စည်းများနှင့် ပဲလွန်းဖြူ၊ ပဲတီစိမ်း၊ ဝက်သစ်ချသီး၊ ကော်ဖီစေ့၊ သီဟိုဠ်ဆံများအား ပြုပြင်မွမ်းမံကြိတ်ခွဲ၍ နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်း

တည်နေရာ - အကွက်အမှတ်(၃)၊သရက်မှော်အကွက်၂/တေဇာခင်ဦး၊နေပူကုန်းလမ်း၊ တောင်ငူမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ ၆.၉၆၇ ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု- ကျပ် ၃၈၉.၁၀ သန်း

လုပ်ငန်းသက်တမ်း - ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၀၀၄ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | - |
| ၄ | ဝင်ငွေခွန် | ၈၈.၆၀ | ၁၃၅.၈၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၈၂.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း (၁၆)ဦး |
| ၈ | CSR (၂%) | | ၈.၁၅ |
| ၉ | မြေငှားရမ်းခ | | ၁၁၂.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၅၅ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၉၀.၈၆ | ၄၃၉.၁၁ |
| ၁၁ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ **Well Being Co., Ltd. (ချမ်းသာသုခ ကုမ္ပဏီလီမိတက်)မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် လယ်ယာထွက်ကုန် ပစ္စည်းများနှင့် ပဲလွန်းဖြူ၊ ပဲတီစိမ်း၊ ဝက်သစ်ချသီး၊ ကော်ဖီစေ့၊ သီဟိုဠ်ဆံများအား ပြုပြင်မွမ်းမံကြိတ်ခွဲ၍ နိုင်ငံခြားသို့ တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Well Being Co., Ltd. (ချမ်းသာသုခကုမ္ပဏီလီမိတက်)<br>- ဒေါ်ယုယုမိုး (အဘ-ဦးဖိုးလ်မိုး)<br>(မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - လယ်ယာထွက်ကုန် ပစ္စည်းများနှင့် ပဲလွန်းဖြူ၊ ပဲတီစိမ်း၊ ဝက်သစ်ချသီး၊ ကော်ဖီစေ့၊ သီဟိုဠ်ဆံများအား ပြုပြင်မွမ်းမံကြိတ်ခွဲ၍ နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - အကွက်အမှတ်(၃)၊ သရက်မှော်အကွက်၊ ၂/တေဇာခင်ဦး၊ နေပူကုန်းလမ်း၊ တောင်ငူမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး |
| | မြေနှင့် အဆောက်အဦ အကျယ်အဝန်း | - စုစုပေါင်း (၆.၉၆၇)ဧက |
| ၃။ | စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၁၆.၀၀ သန်း |
| ၄။ | လုပ်ငန်းသက်တမ်း<br>တည်ဆောက်ရေးကာလ | - ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်<br>- ၂၄ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့်အမျိုးအစား | - **ကျပ် ၃၈၉.၀၀ သန်း(US$ ၀.၃၃၉ သန်း အပါအဝင်)** |
| ၆။ | ပြည်ပမှအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်တင်သွင်းလိုသည့်စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကို တင်ပြထားပါသည်။ |

| | US$ (သန်း) | ကျပ် (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေပမာဏ | | ၁၀.၀၀ | ၁၀.၀၀ |
| စက်ပစ္စည်းတန်ဖိုး | ၀.၃၃၉ | | ၃၃၉.၀၀ |
| မော်တော်ယာဉ် | | ၄၀.၀၀ | ၄၀.၀၀ |
| **စုစုပေါင်း** | **၀.၃၃၉** | **၅၀.၀၀** | **၃၈၉.၀၀** |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့် နည်းစနစ် | - ပြည်ပ ၁၀၀ % |
| ၈။ | ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - ကျပ် ၁၇၀၅.၇၂ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၆၄၇.၅၁ သန်း |
| | အသားတင်အမြတ် | - ကျပ် ၅၈.၂၁ သန်း |
| ၉။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - **(၅၅) ဦး**<br>(ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၃၀၀,၀၀၀ဖြစ်ပါသည်။ |
| ၁၀။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် | (see table below) |

| ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းဈေးနှုန်း (US $/MT) |
|---|---|---|
| ပဲလွန်းဖြူ | ၅၇၅.၀၀ | ၉၈၀.၀၀ |
| ပဲတီစိမ်း | ၂၃၀.၀၀ | ၁၁၃၀.၀၀ |
| ကော်ဖီ | ၁၃၈.၀၀ | ၂၃၀၀.၀၀ |
| ဝက်သစ်ချ | ၁၂၁.၀၀ | ၉၈၀.၀၀ |
| အဆင့်မြင့်ပဲလွန်းဖြူကော်မှုန့် | ၁၇၃.၀၀ | ၂၅၈၀.၀၀ |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်) ဝင်ငွေခွန် | - ကျပ် ၁၉.၄၀ သန်း |
| ၁၂။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၁၂၀,၀၀၀ ယူနစ် |
| ၁၃။ | စိစစ်တွေ့ရှိချက် | - Exchange Rate အနေဖြင့် 1US $ = 1000 ကျပ်ဖြင့် တွက်ချက် တင်ပြထားပါသည်။<br>- လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနနှင့် ချမ်းသာသုခကုမ္ပဏီလီမိတက်တို့၏ တောင်ငူလျှော်ရွှေးလျှော်ထုတ်စက်ရုံအား နှစ်ရှည်ငှားရမ်းခြင်း အတွက် ချုပ်ဆိုထားသည့် သဘောတူစာချုပ် ၊ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် တောင်းခံစာအား တင်ပြထားပါသည်။<br>- လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင် တောင်ငူလျှော်ရွှေးလျှော်ထုတ်စက်ရုံအား ချမ်းသာသုခ ကုမ္ပဏီလီမိတက် နှစ် (၃၀)ဖြင့် တင်ဒါအောင်မြင်ခဲ့ပါသည်။ |

| | | |
|---|---|---|
| | | - ချုပ်ဆိုထားသော စာချုပ်တွင်မူ ငှားရမ်းသည့်ကာလကို ကနဦးနှစ် (၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် တိုးမြှင့်နိုင်ကြောင်းတင်ပြထားသည်ကိုစိစစ်တွေ့ရှိရပါသည်။<br>- စက်မှုသီးနှံ ဖွံ့ဖြိုးရေး ဦးစီးဌာနမှ တောင်ငူလျှော်ရွှေ လျှော်ထုတ် စက်ရုံ၏ ငှားရမ်းသည့် သက်တမ်းကာလနှင့် ပတ်သက်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏မူဝါဒနှင့် ညီညွတ်စေရန်လည်းကောင်း၊ ဌာနနှင့် ကုမ္ပဏီတို့ လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ရန် အဆင်ပြေစေရန် လည်းကောင်း ညှိနှိုင်းဆောင်ရွက်ထားခြင်းဖြစ်ပါသဖြင့် စာချုပ်ပါ ငှားရမ်း သည့်ကာလအား ပြောင်းလဲမှု မရှိဘဲ ကနဦး နှစ် (၅၀)နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးသည့် စနစ်ဖြင့် ဆက်လက် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ထောက်ခံသည့် စာအား တင်ပြထားပါသည်။<br>- စာချုပ်၏ အပိုဒ် ၁၁တွင် အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများ၊ စက်ကိရိယာများကို ဆက်လက် ငှားရမ်း လိုပါက စာချုပ်သက်တမ်း မကုန်ဆုံးမီ အနည်းဆုံး (၆)လကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြပြီး အငှားချထားသူသို့ စာဖြင့် အကြောင်းကြား တင်ပြရမည် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- စာချုပ်၏ အပိုဒ် ၁၂တွင် အငှားချထားခြင်းခံရသူက နှစ် (၅၀)ငှားရမ်းကာလ ပြည့်မြောက်ပြီး ဆက်လက်ငှားရမ်းလို ပါက ကြိုတင်၍ ထပ်မံငှားရမ်းမည့် ကာလအတွက် ငှားရမ်း ခနှုန်းထားကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း သတ်မှတ်၍ အငှားချ ထားသူက သဘောတူလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရယူပြီး စာချုပ် သက်တမ်း ကို တိုးမြှင့်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ချမ်းသာသုခ ကုမ္ပဏီလီမိတက်မှ စက်ရုံလုံခြုံရေးနှင့် မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/ မ- ၂၁၁/ ၂၀၁၅ ( ၅၁၆ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Well-Being Co., Ltd. (ချမ်းသာသုခကုမ္ပဏီလီမိတက်)မှ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနပိုင် မြေနှင့် အဆောက်အဦကို B.O.T စနစ်ဖြင့် ငှားရမ်း၍ လယ်ယာထွက်ကုန်ပစ္စည်းများနှင့် ပဲလွန်းဖြူ၊ ပဲတီစိမ်း၊ ဝက်သစ်ချသီး၊ ကော်ဖီစေ့၊ သီဟိုဠ်ဆံများအား ပြုပြင်မွမ်းမံ ကြိတ်ခွဲ၍ နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Well-Being Co., Ltd. (ချမ်းသာသုခကုမ္ပဏီလီမိတက်)သည် လယ်ယာ စိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ အကွက်အမှတ်(၃)၊ သရက်မှော်အကွက်၊ ၂/တေဇာခင်ဦး၊ နေပူကုန်းလမ်းရှိ မြေ (၆.၉၆၇) ဧကပေါ်ရှိ တောင်ငူလျှော်ရွေးလျှော်ထုတ်စက်ရုံအား B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ လယ်ယာထွက်ကုန် ပစ္စည်းများနှင့် ပဲလွန်းဖြူ၊ ပဲတီစိမ်း၊ ဝက်သစ်ချသီး၊ ကော်ဖီစေ့၊ သီဟိုဠ်ဆံများအား ပြုပြင်မွမ်းမံ ကြိတ်ခွဲ၍ နိုင်ငံခြားသို့ တင်ပို့ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြလာခြင်းဖြစ်ပါသည်။ အဆိုပါ အဆိုပြုလွှာကို ၂၀၁၅ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၄/၂၀၁၅ အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ အကွက်အမှတ်(၃)၊ သရက်မှော်အကွက်၊ ၂/ တေဇာခင်ဦး၊ နေပူကုန်းလမ်း၊ တောင်ငူမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေနှင့်အဆောက်အဦ စုစုပေါင်း (၆.၇၃)ဧက(၂၇၂၃၅.၃၇ စတုရန်းမီတာ) ဖြစ်ပါသည်။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီး ဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Well-Being Co., Ltd. (ချမ်းသာသုခ ကုမ္ပဏီ လီမိတက်)တို့အကြား ချုပ်ဆိုမည့် မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအား ကနဦး နှစ် ၅၀ နှင့်

သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ ၀.၃၃၉ သန်း အပါအဝင် ကျပ် ၃၈၉.၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | US$ (သန်း) | ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | - | ၁၀.၀၀ | ၁၀.၀၀ |
| (ခ) | စက်ပစ္စည်းတန်ဖိုး | ၀.၃၃၉ | - | ၃၃၉.၀၀ |
| (ဂ) | မော်တော်ယာဉ် | - | ၄၀.၀၀ | ၄၀.၀၀ |
| | **စုစုပေါင်း** | **၀.၃၃၉** | **၅၀.၀၀** | **၃၈၉.၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၅၅) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်ပ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းဈေးနှုန်း (MT/USD) |
|---|---|---|
| ပဲလွန်းဖြူ | ၅၇၅.၀၀ | ၉၈၀.၀၀ |
| ပဲတီစိမ်း | ၂၃၀.၀၀ | ၁၁၃၀.၀၀ |
| ကော်ဖီ | ၁၃၈.၀၀ | ၂၃၀၀.၀၀ |
| ဝက်သစ်ချ | ၁၂၁.၀၀ | ၉၈၀.၀၀ |
| အဆင့်မြင့် ပဲလွန်းဖြူကော်မှုန့် | ၁၇၃.၀၀ | ၂၅၈၀.၀၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | ကျပ်ငွေ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၁၇၀၅.၇၂ |
| (ခ) | အသုံးစရိတ် | - | ၁၆၄၇.၅၁ |
| (ဂ) | အသားတင်အမြတ် | - | ၅၈.၂၁ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၁၉.၄၀ သန်းဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာ လျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အသားတင် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်း (သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိကြောင်း၊ လယ်ယာထွက်ကုန် ပစ္စည်းများနှင့် ဥယျာဉ်ခြံမြေထွက်ကုန် ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊ တန်ဖိုးမြှင့် ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းများကို နှစ်ရှည်ဆောင်ရွက်မည့်လုပ်ငန်းကြီးဖြစ်ပါ၍ မြို့နယ်ဒေသအတွင်း အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသအတွင်း စီးပွားရေးဖွံ့ဖြိုးမှုအတွက် များစွာအထောက်အကူပြုနိုင်ပါကြောင်း၊ အဆိုပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်ပါကြောင်း၊ ဒေသခံပြည်သူများအား အဆိုပါလုပ်ငန်းများနှင့် ပတ်သက်၍ ပတ်ဝန်းကျင် ထိန်းသိမ်းမှု၊ လူမှုရေးလုပ်ငန်းများ ဆောင်ရွက်မှု၊ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိရေးနှင့် ပတ်သက်၍ ကုမ္ပဏီအနေဖြင့် ပတ်ဝန်းကျင်နေပြည်သူများအား ကျယ်ကျယ်ပြန့်ပြန့် အသိပေးရှင်းပြသင့်ပါကြောင်း၊ လျှောက်ထားသည့် မြေသည် တောင်ငူမြို့နယ်၊ ရပ်ကွက် (၂)၊ မြေတိုင်းရပ်ကွက်အမှတ် (၃)၊ သရက်မှော်အကွက်၊ ဦးပိုင်အမှတ် (က/၅၂)၊ ဧရိယာ (၆.၉၆၇) ဧကရှိ မြို့မြေဖြစ်ပြီး ဂုံလျှော်ဘေထုတ် စက်ရုံအဖြစ်ယခင်ကအသုံးပြုခဲ့သော်လည်း လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနပိုင် မြေဂရန် ရယူ လျှောက်ထားခြင်း မရှိ၍ (Dorpno. 58/V/54-55) အရ အစိုးရမှ သိမ်းဆည်းထားသော မြေဖြစ်ပြီး တောင်ငူမြို့၊ စည်ပင်သာယာ နယ်နိမိတ်အတွင်း ကျရောက်နေကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ-က

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**မှ လယ်ယာထွက်ကုန်နှင့် ဥယျာဉ်ခြံမြေထွက်ကုန် ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊



MIC memo

တန်ဖိုးမြှင့် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှုလုပ်ငန်းများ (CSR)အား အမြတ်ငွေ၏ ၃၀% ထည့်ဝင်မည်ဆိုသည့် ကတိကဝတ်များ အပါအဝင် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ စီမံကိန်း လုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှု အနည်းဆုံး ဖြစ်စေရေးအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊ အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ဆောင်ရွက်မည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအမံများ၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များစီမံခန့်ခွဲမှုအစီအမံများ၊ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများ၊ စောင့်ကြည့်လေ့လာမည့် အစီအမံများ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်း များနှင့်အညီ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

**[ကုမ္ပဏီ မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** ၏ သဘောထား မှတ်ချက်အရ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan- EMP) ကို ရေးဆွဲမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။]

(ဂ) **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ကုန်ကြမ်းသုံးစွဲမှုပမာဏနှင့် ကုန်ချောထွက်ရှိမှု ပမာဏတူညီနေသဖြင့် Production Waste ထည့်သွင်း တွက်ချက်ရန်လိုအပ်ပါကြောင်း၊ အရည်အသွေး စစ်ဆေးနိုင်ရေး အတွက် ဓါတ်ခွဲခန်းသုံးပစ္စည်းများ ဖော်ပြရန်လိုအပ်ပါကြောင်း၊ ပြည်ပမှတင်သွင်း မည့် စက်ပစ္စည်းများ စာရင်းတွင် ထုတ်လုပ်မည့် ကုန်ပစ္စည်းနှင့် ဆီလျော်မှုမရှိသော ဆီစက်(၁)လုံး ပါဝင်နေသည်ကို စိစစ်တွေ့ရှိရပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

[**ကုမ္ပဏီမှစက်မှုဝန်ကြီးသဘောထားနှင့်အညီ** နှင့် စက်ပစ္စည်းစာရင်းနှင့် Production Waste ထည့်သွင်းတွက်ချက်မှုအား ပြင်ဆင်ဖြည့်စွက် ဖော်ပြထားပါသည်။]

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Well Being Co., Ltd. ဒေါ်ဂျင်းလေ(ခ) ဒေါ်ဂျင်းလင် (ဒါရိုက်တာ)အမည်ဖြင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် (၂၁-၁-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန် ဒေါ်လာ ၂၀၁၄၉ ရှိကြောင်း တင်ပြထား ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ကြောင်း၊ မီးဘေး ကာကွယ်ရေး အစီအမံများ၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက် ထားရှိမှု အခြေအနေနှင့် လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၁။ **စိစစ်တင်ပြချက်**

(က) စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနမှ တောင်ငူလျှော်ရွှေး လျှော်ထုတ်စက်ရုံ၏ ငှားရမ်း သည့် သက်တမ်းကာလနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ မူဝါဒနှင့်ညီညွတ်စေရန် လည်းကောင်း၊ ဌာနနှင့်ကုမ္ပဏီတို့လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ရန် အဆင်ပြေစေရန် လည်းကောင်း ညှိနှိုင်းဆောင်ရွက်ထားခြင်း ဖြစ်ပါသဖြင့် စာချုပ်ပါ ငှားရမ်းသည့်ကာလအား ပြောင်းလဲမှု မရှိဘဲ ကနဦး နှစ်

(၅၀) နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးသည့်စနစ်ဖြင့် ဆက်လက် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ထောက်ခံသည့်စာအား တင်ပြထားပါသည်။ **နောက်ဆက်တွဲ-င**

(ခ) တောင်ငူလျှော်ရွေးလျှော်ထုတ်စက်ရုံ၏ မြေဧရိယာ(၆.၉၆၇)ဧက အတွက် ပုံစံ(၁၀၅)သာ ရရှိထားပြီး မြေငှားဂရန်အား ရယူထားခြင်း မရှိသေးပါသဖြင့် မြေငှားဂရန်အစား အခမဲ့ မြေလွှဲအမိန့် ရရှိရေးအတွက် တောင်ငူခရိုင်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနသို့ တင်ပြလျှောက်ထားပြီးဖြစ်ပါကြောင်း စက်မှုသီးနှံဖွံ့ဖြိုးရေး ဦးစီးဌာနမှ တင်ပြထားပါသည်။ **နောက်ဆက်တွဲ-စ**

**ဆုံးဖြတ်ရန်အချက်**

၁၂။ Well Being Co., Ltd. (ချမ်းသာသုခကုမ္ပဏီလီမိတက်)သည် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ အကွက်အမှတ် (၃)၊ သရက်မှော်အကွက်၊ ၂/တေဇာခင်ဦး၊ နေပူကုန်းလမ်းရှိ မြေ (၆.၉၆၇) ဧက ပေါ်ရှိ တောင်ငူလျှော်ရွေးလျှော်ထုတ်စက်ရုံအား B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ လယ်ယာ ထွက်ကုန် ပစ္စည်းများနှင့် ပဲလွန်းဖြူ၊ ပဲတီစိမ်း၊ ဝက်သစ်ချသီး၊ ကော်ဖီစေ့၊ သီဟိုဠ်ဆံများအား ပြုပြင်မွမ်းမံ ကြိတ်ခွဲ၍ နိုင်ငံခြားသို့ တင်ပို့ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ- က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးတိုင်းဒေသကြီး

စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး၈ (၁၇၂)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၂၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅.၅.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက- ၂ /မ-၂၁၀/၂၀၁၅(၃၁၃)

၁။ Well-Being Co.,Ltd (ချမ်းသာသုခကုမ္ပဏီလီမိတက်)မှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ အကွက်အမှတ်(၃)၊ သရက်မှော်အကွက်၊ ၂/တောဓာခင်ဦး၊ နေပူကုန်းလမ်းရှိ မြေ(၆.၇၃)ကေပေါ်ရှိ တောင်ငူလျှော်ချွေးလျှော်ထုတ်စက်ရုံအား B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ်နှင့် နောက်ထပ်(၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ လယ်ယာထွက်ကုန်ပစ္စည်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီး ဌာနမှတစ်ဆင့် တင်ပြလာမှုနှင့်ပတ်သက်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးရန် ရည်ညွှန်းပါ စာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ စိစစ်ဆောင်ရွက်စေခဲ့ရာ တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲရေး နှင့်စာရင်းအင်းဦးစီးဌာန၊ တိုင်းဒေသကြီးစက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ တောင်ငူခရိုင်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနတို့မှ အောက်ပါအတိုင်း စိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်း(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိကြောင်း၊

(ခ) လယ်ယာထွက်ကုန်ပစ္စည်းများနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းများကို နှစ်ရှည် ဆောင်ရွက်မည့် လုပ်ငန်းကြီးဖြစ်ပါ၍ မြို့နယ်ဒေသအတွင်း အလုပ်အကိုင် အခွင့်

Thinzar General 175

အလမ်းနှင့်ဒေသအတွင်း စီးပွားရေးဖွံ့ဖြိုးမှုအတွက် များစွာအထောက်အကူ ပြုနိုင်ပါကြောင်း၊

(ဂ) အဆိုပါမြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ပါကြောင်း၊ ဒေသခံပြည်သူများအား အဆိုပါလုပ်ငန်းများနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ လူမှုရေးလုပ်ငန်းများဆောင်ရွက်မှု၊ အလုပ်အကိုင်အခွင့်အလမ်းများရရှိရေးနှင့် ပတ်သက်၍ ကုမ္ပဏီအနေဖြင့် ပတ်ဝန်းကျင်နေပြည်သူများအား ကျယ်ကျယ်ပြန့်ပြန့် အသိပေးရှင်းပြသင့်ပါကြောင်း၊

(ဃ) လျှောက်ထားသည့်မြေသည် တောင်ငူမြို့နယ်၊ရပ်ကွက်(၂)၊မြေတိုင်းရပ်ကွက်အမှတ်(၃)၊သရက်မှော်အကွက်၊ဦးပိုင်အမှတ်(က/၅၂)၊ ဧရိယာ(၆.၉၆၇) ဧကရှိ မြို့မြေဖြစ်ပြီး ကုံလျှော်ဘောထုပ်စက်ရုံအဖြစ် ယခင်ကအသုံးပြုခဲ့သော်လည်း လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနပိုင်မြေဂရန် ရယူလျှောက်ထားခြင်းမရှိ၍ (Dorpno. 58/V/54-55)အရ အစိုးရမှ သိမ်းဆည်းထားသောမြေဖြစ်ပြီး တောင်ငူမြို့၊ စည်ပင်သာယာနယ်နိမိတ်အတွင်း ကျရောက်နေကြောင်း ၊

၃။ သို့ပါ၍ Well-Being Co.,Ltd (ချမ်းသာသုခကုမ္ပဏီလီမိတက်)မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ အကွက်အမှတ်(၃)၊ သရက်မှော်အကွက်၊ ၂/တောဇာခင်ဦး၊ နေပူကုန်းလမ်းရှိ မြေ(၆.၇၃)ဧကပေါ်ရှိ တောင်ငူလျှော်ရွေးလျှော်ထုတ်စက်ရုံအား B.O.T စနစ်ဖြင့်ငှားရမ်း၍ လယ်ယာထွက်ကုန်ပစ္စည်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ၊ကြိတ်ခွဲခြင်း၊ပြုပြင်ခြင်း၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်မည်ဆိုပါက ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် သီးခြားကန့်ကွက်ရန်မရှိပါကြောင်းနှင့် အဆိုပါမြေအား လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနပိုင် မြေဂရန်အမည်ပေါက်ရရှိရေးအတွက် သက်ဆိုင်ရာဌာနတွင် ကြိုတင်ရယူ လျှောက်ထားဆောင်ရွက်စေသင့်ပါကြောင်း တစ်ပါတည်းဖော်ပြအပ်ပါသည်။

(ဥာဏ်ဝင်း)
ဝန်ကြီးချုပ်

မိတ္တူ။

Well-Being Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

Thinzar General 176

နောက်ဆက်တွဲ- ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

MIC, 16/1016

NPT-3193
9.6.15

စာအမှတ် ၃(၁)/၁၁(ဃ)(၆)/( ၈၈၈ /၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅ - ၅ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / မ - ၂၁၁ / ၂၀၁၅ ( ၃၁၅ )

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ Well-Being Co.,Ltd ( ချမ်းသာသုခ ကုမ္ပဏီ လီမိတက်)မှ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီး ဌာနပိုင် ပဲခူးတိုင်းဒေသကြီး ၊ တောင်ငူမြို့နယ် ၊ အကွက်အမှတ် ( ၃ ) ၊ သရက်မှော်အကွက် ၊ ၂ / တေဇာခင်ဦး ၊ နေပူကုန်းလမ်းရှိ မြေ ( ၆.၇၃ ) ဧကပေါ်ရှိ တောင်ငူလျှော်ထုတ်စက်ရုံအား BOT စနစ်ဖြင့် ကနဦး(၅၀)နှစ် နှင့် နောက်ထပ်(၁၀)နှစ်(၂)ကြိမ် ငှားရမ်း၍ လယ်ယာထွက်ကုန်ပစ္စည်း နှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ကြိတ်ခွဲခြင်း ၊ ပြုပြင်ခြင်း ၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာအား စိစစ်ရာတွင် လယ်ယာထွက်ကုန်ပစ္စည်း နှင့် ဥယျာဉ်ခြံမြေထွက်ကုန် ပစ္စည်းများ ကြိတ်ခွဲခြင်း ၊ ပြုပြင်ခြင်း ၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းတွင်အသုံးပြုမည့် အသီးအရွက်များအား စနစ်တကျသိုလှောင်ထားခြင်းမရှိပါက မှိုများ၊ ဘက်တီးရီးယားများ နှင့် ပိုးမွှားများ ဝင်ရောက်နိုင်ပါသဖြင့် စားသုံးသူတို့၏ ကျန်းမာရေးအား ထိခိုက်စေနိုင်ပြီး စားသောက်ကုန် များကို ထုတ်ပိုးရာတွင် အသုံးပြုမည့် Plastic မှ ထွက်ရှိလာ မည့် စွန့်ပစ်ပစ္စည်းများအား စနစ် တကျစီမံခန့်ခွဲခြင်းမရှိပါက ပတ်ဝန်းကျင် လေထု ၊ မြေထု နှင့် ရေထုကို ညစ်ညမ်းစေနိုင်ခြင်း နှင့် သီးနှံများ ကြိတ်ခွဲရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများ ကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ပါသည်။ ထို့အပြင် လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိ လာမည့် စက်ယန္တရားများ၏ ဆူညံသံများကြောင့် ပတ်ဝန်းကျင် အသံဆူညံမှုများ ဖြစ်ပေါ်စေ နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Well - Being Co.,Ltd ( ချမ်းသာသုခ ကုမ္ပဏီလီမိတက် ) မှ လယ်ယာထွက်ကုန်ပစ္စည်း နှင့် ဥယျာဉ်ခြံမြေ ထွက်ကုန်ပစ္စည်းများ ကြိတ်ခွဲခြင်း ၊ ပြုပြင်ခြင်း ၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) လယ်ယာထွက်ကုန် နှင့် ဥယျာဉ်ခြံမြေထွက်ကုန် ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန် အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ် စေမည့်နည်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှုလုပ်ငန်းများ (CSR) အား အမြတ်ငွေ၏ ၃၀% ထည့်ဝင် မည်ဆိုသည့် ကတိကဝတ်များအပါအဝင် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေရေး အတွက် ဆောင်ရွက်မည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအမံများ ၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ၊စောင့်ကြည့်လေ့လာမည့် အစီအမံများ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သုံးစွဲမည့် ရန်ပုံငွေများပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန် ။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

နောက်ဆက်တွဲ-ဂ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်။ ၄ / ၉ဂ (က) (၄) ( ၁၀၄၁ /၂၀၁၅)
ရက်စွဲ ။ ၂၀၁၅ ခုနှစ်၊ မေလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၅.၂၀၁၅ ရက်စွဲပါစာအမှတ်၊ရက-၂/မ-၂၁၁/၂၀၁၅(၃၃၁-က)

Well-Being Co., Ltd(ချမ်းသာသုခကုမ္ပဏီလီမိတက်)သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ အကွက်အမှတ်(၃)၊ သရက်မော်အကွက်၊ ၂/တေဇာခင်ဦး၊ နေပူကုန်းလမ်းရှိ မြေ(၆.၇၃)ဧကပေါ်ရှိ တောင်ငူလျှော်ရွေးလျှော်ထုပ်စက်ရုံအား B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ်နှင့် နောက်ထပ်(၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ လယ်ယာထွက်ကုန်ပစ္စည်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ခေတ္တအမြဲတမ်းအတွင်းဝန် )

မိတ္တူ။

ညွှန်ကြားရေးမှူးချုပ်၊စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန



MIC 162 25/5

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၄၉၅)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ၁၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅.၅.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/မ -၂၁၁/ ၂၀၁၅ (၁၁၄)

၁။ Well-Being Co.,Ltd. သည် နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ အကွက်အမှတ်(၃)၊ သရက်မှော်အကွက်၊ ၂/တေဇာခင်ဦး၊ နေပူကုန်းလမ်းတွင် လယ်ယာထွက်ကုန်ပစ္စည်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး လယ်ယာထွက်ကုန်ပစ္စည်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊ တန်ဖိုးမြှင့်ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းသုံးစွဲမှုပမာဏနှင့် ကုန်ချောထွက်ရှိမှု ပမာဏတူညီနေသဖြင့် Production Waste ထည့်သွင်းတွက်ချက်ထားမှု မရှိပါ။

(စ) အရည်အသွေးစစ်ဆေးနိုင်ရေးအတွက် ခါတ်ခွဲခန်းသုံးပစ္စည်းများ ဖော်ပြမထားပါ။

(ဆ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများစာရင်းတွင် ထုတ်လုပ်မည့် ကုန်ပစ္စည်းနှင့် ဆီလျော်မှု မရှိသော ဆီစက်(၁)လုံး ပါဝင်နေသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ သို့ပါ၍ Well-Being Co.,Ltd.မှ လယ်ယာထွက်ကုန်ပစ္စည်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း၊ တန်ဖိုးမြှင့် ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

နောက်ဆက်တွဲ- င

MIC၊ ၃၇
၁၇/၆

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန
ရုံးအမှတ်(၅၀)၊ နေပြည်တော်

စာအမှတ်၊ ၂/ဂုန်လျှော်/ ၂-၄/ ၃၄၅ / ၂၀၁၅
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ၊ ၂၃ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **တောင်ငူလျှော်ရွေးလျှော်ထုပ်စက်ရုံ၏ ငှားရမ်းသည့်သက်တမ်းကာလနှင့် ပတ်သက်၍ ထောက်ခံချက်ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ နိုင်ငံတော်သမ္မတရုံး၏ ၁.၁၂.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ဖ (၁)/ ၇/ သမ္မတရုံး

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ ဂုန်လျှော်နှင့်လျှော်မျှင်များပညာပေးရေးနှင့်နည်းပညာဖွံ့ဖြိုးရေးဌာနခွဲလက်အောက်ရှိ တောင်ငူလျှော်ရွေးလျှော်ထုပ်စက်ရုံအား တစ်နှစ်ငှားရမ်းခ (၁၆)ကျပ်သန်းဖြင့် တင်ဒါအောင်မြင်ခဲ့သော ချမ်းသာသုခကုမ္ပဏီလီမိတက် (Well Being Co., Ltd) သို့ ငှားရမ်းခွင့်ပြုပါရန် တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတရုံးမှ ရည်ညွှန်း(၁)ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားခဲ့ပါသဖြင့် မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြနိုင်ရန်အတွက် တောင်ငူလျှော်ရွေးလျှော်ထုပ်စက်ရုံ ငှားရမ်းရေးသဘောတူစာချုပ်ကို ၉.၂.၂၀၁၅ ရက်နေ့တွင် ကုမ္ပဏီနှင့် ဌာနတို့ နှစ်ဖက်လက်မှတ်ရေးထိုးစာချုပ်ချုပ်ဆိုခဲ့ပါသည်။

၂။ ငှားရမ်းရေးသဘောတူစာချုပ်အပိုဒ် (၉) ငှားရမ်းကာလ ခေါင်းစဉ်အောက်၌ **"အငှားချထားသည့် စက်ရုံ၊ မြေနှင့်အဆောက်အဦများ တပ်ဆင်စက်များကို တရားဝင်လွှဲပြောင်းပေးအပ်သည့်နေ့မှစ၍ နှစ်(၅၀) ငှားရမ်းရန်နှင့် နှစ်(၅၀)သက်တမ်းကုန်ဆုံးပြီးနောက် "အငှားချထားခြင်းခံရသူ"က ဆက်လက်လုပ်ကိုင်လိုသည့်အခါ "အငှားချထားသူ"၏ သဘောတူညီချက်ရရှိလျှင် ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားပေါ် မူတည်၍ သက်တမ်းတိုးခွင့်ကို တစ်ဆက်တည်း (၁၀)နှစ်အထိ (၂)ကြိမ်တိုးမြှင့်နိုင်သည်"** ဟု ချုပ်ဆိုခဲ့ပါသည်။

၃။ တောင်ငူလျှော်ရွေးလျှော်ထုပ်စက်ရုံ၏ ငှားရမ်းသည့်သက်တမ်းကာလနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မူဝါဒနှင့် ညီညွတ်စေရန်လည်းကောင်း၊ ကုမ္ပဏီနှင့်ဌာနတို့ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန် အဆင်ပြေစေရန်လည်းကောင်း ညှိနှိုင်းဆောင်ရွက်ထားခြင်းဖြစ်ပါသဖြင့် စာချုပ်ပါ ငှားရမ်းသည့်ကာလအား ပြောင်းလဲမှုမရှိဘဲ ကနဦး နှစ်(၅၀)နှင့် (၁၀)နှစ်(၂)ကြိမ် သက်တမ်းတိုးသည့်စနစ်ဖြင့် ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ဖဲဆောင်၊ ညွှန်ကြားရေးမှူး၊ ဂုန်လျှော်သီးနှံ)

မိတ္တူကို
- ရုံးလက်ခံ
- မျှောစာတွဲ

နောက်ဆက်တွဲ(စ)

MIC၊ ၄၇/၁၅၆

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန
ရုံးအမှတ်(၅၀)၊ နေပြည်တော်

စာအမှတ်၊ ၂/ ဂုန်လျှော်/ ၂-၄ / ၅၂၀ / ၂၀၁၅
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ၊ ၂၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **တောင်ငူလျှော်ရွေးလျှော်ထုပ်စက်ရုံ၏ အခမဲ့ မြေလွှဲအမိန့်ရရှိရေး ဆောင်ရွက်မှု အခြေအနေ**

ရည်ညွှန်းချက် ။ (၁) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၅.၁၂.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၃၄၇၆/ ၃၅၆- မြေ ၂-၁/ အဖရ (၂၀၁၄)

(၂) စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ ဂုန်လျှော်သီးနှံဌာနခွဲ၏ ၁၈.၅.၂၀၁၅ ရက်စွဲ ပါစာအမှတ်၊ ၂/ ဂုန်လျှော်/ ၂-၄/ ၄၂၅/ ၂၀၁၅

၁။ နိုင်ငံတော်ကစီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေများကိုနိုင်ငံတော်ကိုယ်စားပြည်ထဲရေးဝန်ကြီးဌာနက စီမံဆောင်ရွက်ရာတွင် ရွာမြေ၊ မြို့မြေများ စီမံခန့်ခွဲခြင်းနှင့်စပ်လျဉ်း၍ မြေငှားဂရန်ချထားခြင်း၊ မြေသိမ်းခြင်း၊မြေလွှဲခြင်း၊ အခွန်လွတ်မြေဂရန်ထုတ်ပေးခြင်း၊ ဗဒ္ဓသိမ်ဂရန်ထုတ်ပေးခြင်းနှင့် စားကျက်မြေသတ်မှတ်ထိန်းသိမ်းခြင်း၊ ပယ်ဖျက်ခြင်းကိစ္စရပ်များကို ၁၈၇၆ ခုနှစ် မြေနှင့်အခွန်အက်ဥပဒေနှင့် နည်းဥပဒေများ၊ ၁၈၈၉ ခုနှစ် အထက်မြန်မာနိုင်ငံ မြေနှင့်အခွန်စည်းမျဉ်းဥပဒေနှင့်နည်းဥပဒေများ၊ ၁၈၉၄ ခုနှစ် မြေသိမ်းအက်ဥပဒေနှင့်နည်းဥပဒေများ၊ ၁၈၉၈ခုနှစ် အောက်မြန်မာနိုင်ငံ မြို့နှင့်ကျေးရွာမြေများ အက်ဥပဒေနှင့်နည်းဥပဒေများနှင့်အညီ စီမံဆောင်ရွက်လျက်ရှိရာ ယင်းကိစ္စရပ်များကို ဆောင်ရွက်ရာတွင် လိုက်နာဆောင်ရွက်နိုင်ရေးအတွက် လုပ်ထုံးလုပ်နည်းများကို ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ ရည်ညွှန်း(၁)ပါစာဖြင့် ညွှန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်အတွင်းတည်ရှိသော စက်မှုသီးနှံဖွံ့ဖြိုးရေး ဦးစီးဌာန၊ ဂုန်လျှော်သီးနှံဌာနခွဲလက်အောက်ရှိ တောင်ငူလျှော်ရွေးလျှော်ထုပ်စက်ရုံ၏ မြေဧရိယာ (၆.၉၆၇)ဧက အတွက် ပုံစံ(၁၀၅)သာ ရရှိထားပြီး မြေငှားဂရန်အား ရယူထားခြင်း မရှိသေးပါသဖြင့် မြေငှားဂရန်အစား အခမဲ့မြေလွှဲအမိန့်ထုတ်ပေးနိုင်ရေး ရည်ညွှန်း(၂)ပါစာဖြင့် တောင်ငူခရိုင်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနသို့ တင်ပြလျှောက်ထားပြီးဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ဖဲဆောင်၊ ညွှန်ကြားရေးမှူး၊ ဂုန်လျှော်သီးနှံ)

မိတ္တူကို
- ရုံးလက်ခံ
- မျှောစာတွဲ
-

LH

၇၂၆
၁၆.၃.၁၅

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
**စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန**
**ညွှန်ကြားရေးမှူးချုပ်ရုံး**
ရုံးအမှတ်(၅၀)
နေပြည်တော်

စာအမှတ်၊စက်မှုသီးနှံ/စီမံကိန်း/မြေယာ-၂၃/၂၀၁၅(၃၁၁)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၁၂ ရက်

အကြောင်းအရာ။ **မြေအသုံးချမှုစီမံခန့်ခွဲရေးဆိုင်ရာညွှန်ကြားချက်ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၏ ၂၇.၁.၂၀၁၅ ရက်စွဲပါစာအမှတ်၊ စက်မှုသီးနှံ/စီမံကိန်း/မြေယာ-၂၃/၂၀၁၅(၀၉၉)

(၂) ပြည်ထောင်စုဝန်ကြီးရုံး၏ ၂၄.၂.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂/(၂၇၀) (ည) (၇) (၃၇၀/၂၀၁၅) (စာမိတ္တူပူးတွဲ)

၁။ မြေယာနှင့်သက်ဆိုင်သောဥပဒေများအရ မြေအသုံးချမှုစီမံခန့်ခွဲခွင့်အာဏာ အပ်နှင်းခြင်းခံရသော အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများသည် သက်ဆိုင်ရာဥပဒေနှင့်နည်းဥပဒေများပါပြဋ္ဌာန်းချက်များကိုလည်းကောင်း၊ အမိန့်ကြော်ငြာစာ၊ ညွှန်ကြားချက်နှင့်လုပ်ထုံးလုပ်နည်းများကိုလည်းကောင်း တိကျစွာသိရှိလိုက်နာဆောင်ရွက်ရန် ရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားပေးပို့ခဲ့ပြီးဖြစ်ပါသည်။

၂။ ယခုထပ်မံ၍ ဌာနပိုင်အသုံးပြုလျက်ရှိသောမြေများနှင့်ပတ်သက်၍ မြေသိမ်း၊ မြေလွှဲပေးခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဝန်ကြီးဌာနအောက်ရှိ ဌာနဆိုင်ရာများအနေဖြင့် လျှောက်ထားဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသဖြင့် ညွှန်ကြားချက်အား သိရှိလိုက်နာဆောင်ရွက်သွားရန် ရည်ညွှန်း(၂)ပါစာဖြင့်အကြောင်းကြားလာခြင်းကို သိရှိလိုက်နာဆောင်ရွက်ရန် ရည်ညွှန်း(၂)စာမိတ္တူပူးတွဲပေးပို့လျက်အကြောင်းကြားပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဇော်ထွန်းမြင့်၊ ဒု-ညွှန်ကြားရေးမှူးချုပ်)

ရုံးချုပ်ဌာနခွဲများ( ၇ ခု လျှော် )
တိုင်းဒေသကြီး/ပြည်နယ်ဦးစီးမှူး( )တိုင်းဒေသကြီး/ပြည်နယ်

မိတ္တူ
- ရုံးလက်ခံ
- မျှောစာတွဲ

Land commission/report/land report(monthly)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂/(၂၇၀)(ည)(၇)( ၄၅၁ /၂၀၁၅ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်

အကြောင်းအရာ။ **မြေအသုံးချမှုစီမံခန့်ခွဲရေးဆိုင်ရာ ညွှန်ကြားချက်ပေးပို့လာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏(၂၅.၁၂.၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၃၄၇၆/ ၃၅၆ -မြေ ၂-၁/အဖရ(၂၀၁၄)(မိတ္တူပူးတွဲ) .

၁။ မြေယာနှင့်သက်ဆိုင်သောဥပဒေများအရ မြေအသုံးချမှုစီမံခန့်ခွဲခွင့်အာဏာ အပ်နှင်းခြင်းခံရသော အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများသည် သက်ဆိုင်ရာဥပဒေနှင့်နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များကိုလည်းကောင်း၊ အမိန့်ကြော်ငြာစာ၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများကိုလည်းကောင်း တိကျစွာလိုက်နာဆောင်ရွက်သွားရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ဌာနပိုင်အသုံးပြုလျက်ရှိသော မြေများနှင့် ပတ်သက်၍ မြေသိမ်း၊ မြေလွှဲပေးခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဝန်ကြီးဌာနအောက်ရှိ ဌာနဆိုင်ရာများအနေဖြင့် လျှောက်ထားဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသဖြင့် ညွှန်ကြားချက်အား သိရှိလိုက်နာဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ပူးတွဲပါ- (၁၀)ရွက်

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(သက်နိုင်ဦး၊ ရုံးအဖွဲ့မှူး)

ညွှန်ကြားရေးမှူးချုပ်၊

ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လယ်ယာဖွံ့ဖြိုးရေးဘဏ်

ပါမောက္ခချုပ်၊ ရေဆင်းစိုက်ပျိုးရေးတက္ကသိုလ်



၁၅.၁.၃
၁၈၊၂၊၂၀၁၅

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန

စာအမှတ်၊ ၁၃၃၆ /၁မ-၁ (အဆောက်အဦ)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၆)ရက်

သို့

**ရုံးအဖွဲ့မှူး**

**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

အကြောင်းအရာ။ **မြေအသုံးချမှုစီမံခန့်ခွဲရေးဆိုင်ရာ ညွှန်ကြားချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၂၅.၁၂.၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၃၄၇၆/ ၃၅၆-မြေ ၂-၁/အဖရ(၂၀၁၄)

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၇(က) တွင် **"နိုင်ငံတော်သည် နိုင်ငံတော်ရှိ မြေအားလုံး၊ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက်နှင့် လေထုအတွင်းရှိ သယံဇာတပစ္စည်းအားလုံး၏ ပင်ရင်းပိုင်ရှင်ဖြစ်သည်"** ဟု ပြဋ္ဌာန်းထားပြီး ပုဒ်မ ၉၆ ပါ ပြည်ထောင်စုဥပဒေပြုစာရင်းဇယား (၁) အရ မြေယာစီမံခန့်ခွဲမှု၊ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ ဖော်ထုတ်ခြင်းနှင့် ရွာမြေ၊ မြို့မြေစီမံခန့်ခွဲရေးတို့ကို ပြည်ထောင်စုက စီမံဆောင်ရွက်ခွင့်ရှိသည်နှင့်အညီ မြေယာစီမံခန့်ခွဲမှု၊ ရွာမြေ၊ မြို့မြေစီမံခန့်ခွဲမှုဆိုင်ရာ မြေငှားရမ်းခြင်း၊ မြေသိမ်းဆည်းခြင်းနှင့် မြေလွှဲခြင်းကိစ္စရပ်များဆောင်ရွက်ရာတွင် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရအဖွဲ့အစည်းများ၊ နေပြည်တော်ကောင်စီ၊ တိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့များက လိုက်နာဆောင်ရွက်ရမည့် ညွှန်ကြားချက်များကို ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အစိုးရဝန်ကြီးဌာနများ၊ အစိုးရအဖွဲ့အစည်းများအနေဖြင့် မြေစီမံခန့်ခွဲမှုများအတွက် မြေလက်ရောက်ရယူခြင်း၊ မြေသိမ်း၊ မြေလွှဲပြုလုပ်ခြင်း၊ မြေဂရုံရရှိရေး ဆောင်ရွက်ခြင်းတို့နှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်ဆောင်ရွက်ရန် လိုအပ်ပါသည်-

ကျော်
3/3

(က) မြို့အဖြစ် သတ်မှတ်ထားသော မြို့မြေများအတွင်း အစိုးရဌာနများ၊ အစိုးရ အဖွဲ့အစည်းများက အသုံးပြုနေသော ယခင်က နှစ်စဉ်မြေငှားရမ်းခဖြင့် မြေငှားဂရန် ထုတ်ပေးထားသော မြေများအတွက်-

(၁) အစိုးရဌာနများ၊ အစိုးရ အဖွဲ့အစည်းများက အသုံးပြုနေသော ယခင်က နှစ်စဉ်မြေငှားရမ်းခဖြင့် မြေငှားဂရန် ထုတ်ပေးထားသော မြေများ အတွက် သက်ဆိုင်ရာအစိုးရဌာနများမှ လိုအပ်သောအချက်အလက် အထောက်အထားများနှင့်အတူတင်ပြလာပါက ပြည်ထဲရေးဝန်ကြီးဌာန အနေဖြင့် မြေငှားဂရန်အစား **ရည်ညွှန်းချက်စာပါ အပိုဒ် (၁)၊ အပိုဒ်ခွဲ (ခ)** အရ အခမဲ့မြေလွှဲအမိန့်ပြောင်းလွဲ ထုတ်ပေးသွားမည် ဖြစ်ပါသည်။

(၂) အစိုးရဝန်ကြီးဌာန၊ အစိုးရအဖွဲ့အစည်းများမှ ဖြစ်သော်လည်း ဝင်ငွေ ရှိသော ပြည်သူ့အကျိုးပြုလုပ်ငန်းများ၊ စက်မှုနှင့်စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ပါက အဆိုပါမြေများနှင့်စပ်လျဉ်းပြီး သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ **ရည်ညွှန်းချက်စာပါ အပိုဒ် (၁)၊ အပိုဒ်ခွဲ (ခ)** အရ ပြည်ထဲရေးဝန်ကြီးဌာနမှ မြေငှားဂရန် ထုတ်ပေးသွားမည်ဖြစ် ပါသည်။

(ခ) မြို့အဖြစ် သတ်မှတ်ထားသော မြို့မြေများအတွင်း အစိုးရဌာနများ၊ အစိုးရ အဖွဲ့အစည်းများက အသုံးပြုနေသော ယခင်က မြေငှားဂရန် ထုတ်ပေးထား ခြင်း/ ရယူထားခြင်း မရှိသော မြေများအတွက် သက်ဆိုင်ရာ အစိုးရဌာနများမှ လိုအပ်သောအချက်အလက် အထောက်အထားများနှင့်အတူ တင်ပြလာပါက ပြည်ထဲရေးဝန်ကြီးဌာနအနေဖြင့် **ရည်ညွှန်းချက်ပါစာအပိုဒ် ၁၊ အပိုဒ်ခွဲ(ခ)** နှင့်အညီ မြေငှားဂရန်အစား အခမဲ့မြေလွှဲအမိန့် ထုတ်ပေးသွားမည်ဖြစ်ပါသည်။

(ဂ) အစိုးရသီးသန့်ရပ်ကွက် (Civil Station) အတွင်းရှိ အစိုးရဝန်ကြီးဌာန၊ အစိုးရအဖွဲ့အစည်းများမှ စီမံခန့်ခွဲသော မြေများနှင့်စပ်လျဉ်း၍ **အောက် မြန်မာပြည်မြို့နှင့် ကျေးရွာများ နည်းဥပဒေ အခန်း (၇)၊ နည်းဥပဒေ (၆၁) မှ**

(၇၄) အထိ နှင့် အထက်မြန်မာပြည် မြေနှင့်အခွန် နည်းဥပဒေ ၅၁ (တ) တို့ပါ ပြဋ္ဌာန်းချက်များနှင့်အညီ မြေငှားဂရန်ထုတ်ပေးခြင်း၊ မြေငှားအခွန် စည်းကြပ်ခြင်း တို့ကို စိစစ်ဆောင်ရွက်ပေးသွားရမည် ဖြစ်ပါသည်။

(ဃ) မြို့အဖြစ်သတ်မှတ်ထားခြင်းမရှိသော မြေများကို အစိုးရဌာနအသီးသီးမှ အများပြည်သူအကျိုးငှာ မြေများသိမ်းဆည်းရန် လိုအပ်၍ အဆိုပြုလာသည့် အခါ သက်ဆိုင်ရာအစိုးရဌာနများအနေဖြင့် **ရည်ညွှန်းချက်စာပါ အပိုဒ် ၁၊ အပိုဒ်ခွဲ (င)၊ အပိုဒ်ခွဲ (စ)** တို့ပါ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရန် နှင့် မြေသိမ်းဆောင်ရွက်သော မြေများအပေါ်တွင် ဆောင်ရွက်မည့် လုပ်ငန်း သည် ဝင်ငွေရရှိသော ပြည်သူ့အကျိုးပြုလုပ်ငန်းဖြစ်ပါက အထက်အပိုဒ်ခွဲ က(၂) အရလည်းကောင်း၊ မြေသိမ်းဆောင်ရွက်သော မြေများအပေါ်တွင် ဆောင်ရွက်မည့်လုပ်ငန်းသည် ဝင်ငွေမရှိသော ပြည်သူ့အကျိုးပြုလုပ်ငန်း ဖြစ်ပါက အထက်အပိုဒ်ခွဲ (ခ) အရလည်းကောင်း ဆောင်ရွက်သွားရမည် ဖြစ်ပါသည်။

(င) စားကျက်မြေများ၊ သစ်တောမြေများအား အစိုးရဌာနအသီးသီးမှ အများ ပြည်သူအကျိုးငှာ မြေများသိမ်းဆည်းရန် လိုအပ်၍ အဆိုပြုလာသည့်အခါ သက်ဆိုင်ရာအစိုးရဌာနများအနေဖြင့် စားကျက်မြေများနှင့် သစ်တောမြေများ ကို တာဝန်ယူထိန်းသိမ်းလျက်ရှိသည့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ညှိနှိုင်း ၍ စားကျက်မြေ နှင့် သစ်တောမြေများ စွန့်လွှတ်နိုင်ရေး ဆောင်ရွက်ရန် လိုအပ် ပြီး၊ သက်ဆိုင်ရာဝန်ကြီးဌာနများမှ ဆိုင်ရာမြေအဖြစ်မှ စွန့်လွှတ် ခွင့်ပြုချက် ရရှိပါက **ရည်ညွှန်းချက်ပါစာအပိုဒ် ၁၊ အပိုဒ်ခွဲ (ဃ)** ပါ ညွှန်ကြားချက်နှင့် အညီ ဆောင်ရွက်ရန်နှင့် မြေသိမ်းဆောင်ရွက်သော မြေများအပေါ်တွင် ဆောင်ရွက်မည့် လုပ်ငန်းသည် ဝင်ငွေရရှိသော ပြည်သူ့အကျိုးပြုလုပ်ငန်း ဖြစ်ပါက အထက်အပိုဒ်ခွဲ က(၂) အရလည်းကောင်း၊ မြေသိမ်းဆောင်ရွက်သော မြေများအပေါ်တွင် ဆောင်ရွက်မည့်လုပ်ငန်းသည် ဝင်ငွေမရှိသော ပြည်သူ့ အကျိုးပြုလုပ်ငန်းဖြစ်ပါက အထက်အပိုဒ်ခွဲ (ခ) အရလည်းကောင်း ဆောင်ရွက် သွားရမည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ဌာနပိုင်အသုံးပြုလျက်ရှိသော မြေများနှင့်ပတ်သက်ပြီး မြေသိမ်း၊ မြေလွှဲပေးခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဝန်ကြီးဌာနအောက်ရှိ ဌာနဆိုင်ရာများအနေဖြင့် လျှောက်ထားဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသောကြောင့် လိုအပ်သလို လမ်းညွှန်မှုပြုနိုင်ပါရန် ရည်ညွှန်းစာ ပူးတွဲလျက် ပေးပို့တင်ပြအပ်ပါသည်။

သတိုးအောင်
ခေတ္တညွှန်ကြားရေးမှူးချုပ်

မိတ္တူ။

မျှောစာတွဲ
လက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

စာအမှတ်၊ ၃၄၇၆/၃၅၆-မြေ ၂-၁/အဖရ(၂၀၁၄)
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ ၂၅ ရက်

သို့

ပြည်ထောင်စုဝန်ကြီး၊ ပြည်ထောင်စုဝန်ကြီးဌာန(အားလုံး)
ဥက္ကဋ္ဌ၊ နေပြည်တော်ကောင်စီ၊
ဝန်ကြီးချုပ်၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ (အားလုံး)

အကြောင်းအရာ။ **မြေအသုံးချမှုစီမံခန့်ခွဲရေးဆိုင်ရာ ညွှန်ကြားချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ (၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၁၁-၁၂-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၁(၂၀) ၂-၁ (၇၂၁)

(၂) ပြည်ထဲရေးဝန်ကြီးဌာန၏ ၂၀-၁၂-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ပထရ/၂-၃ (၃၉၆၈)/ထောက် ၂

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေ၊ ပုဒ်မ ၃၇(က)တွင် **"နိုင်ငံတော်သည် နိုင်ငံတော်ရှိမြေအားလုံး၊ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက်နှင့် လေထုအတွင်းရှိ သယံဇာတပစ္စည်းအားလုံး၏ ပင်ရင်းပိုင်ရှင်ဖြစ်သည်"** ဟုပြဋ္ဌာန်းထားပြီး ပုဒ်မ ၉၆ပါ ပြည်ထောင်စုဥပဒေပြုစာရင်းဇယား(၁)အရမြေယာစီမံခန့်ခွဲမှု၊ မြေလွတ်မြေလပ်နှင့် မြေရိုင်းများဖော်ထုတ်ခြင်းနှင့် ရွာမြေ၊ မြို့မြေစီမံခန့်ခွဲရေးတို့ကို ပြည်ထောင်စုက စီမံဆောင်ရွက်ခွင့်ရှိသည်နှင့်အညီ မြေယာစီမံခန့်ခွဲမှု၊ ရွာမြေ၊ မြို့မြေစီမံခန့်ခွဲမှုဆိုင်ရာ မြေငှားရမ်းခြင်း၊ မြေသိမ်းဆည်းခြင်းနှင့် မြေလွှဲခြင်းကိစ္စရပ်များ ဆောင်ရွက်ရာတွင် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရအဖွဲ့အစည်းများ၊ နေပြည်တော်ကောင်စီ၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့များက အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် ညွှန်ကြားပါသည်-

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့သည် မြေအမျိုးအစားအလိုက် မြေတန်ဖိုးသတ်မှတ်ခြင်းကို သက်ဆိုင်ရာဒေသအလိုက်၊ နှစ်အလိုက် အတည်ပြုသတ်မှတ်ထုတ်ပြန်ခြင်း။

(ခ) အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းကအသုံးပြုသော မြေများအတွက် နှစ်စဉ်မြေငှားရမ်းခပေးဆောင်ရသည့် မြေငှားဂရန်ထုတ်ပေးခြင်းမပြုဘဲ မြေလွှဲပေးခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်ဖြစ်၍ စက်မှုနှင့်စီးပွားရေးလုပ်ငန်းလုပ်ကိုင်သော မြေများအတွက်ဖြစ်လျှင် မြေငှားဂရန်ထုတ်ပေးခြင်း။

(ဂ) မြေငှားဂရန်ထုတ်ပေးနိုင်ရန် လိုအပ်သည့် မြေစာရင်းပုံစံ ၁၀၅ ကို ကြေးတိုင်နှင့် မြေစာရင်းဦးစီးဌာနက ဥပဒေနှင့်အညီ နှောင့်နှေးခြင်းမရှိဘဲ ထုတ်ပေးခြင်း။

ရက်စွဲ ---------
အမှတ် ---------
လက်မှတ် ---------
အမည် ---------

P19/41-UOG

(ဃ) ပြည်ထောင်စုဝန်ကြီးဌာနက စီမံခန့်ခွဲသောမြေကို အခြားရည်ရွယ်ချက်တစ်ရပ်ရပ်အတွက် အသုံးပြုနိုင်ရန် မိမိစီမံခန့်ခွဲသောမြေအဖြစ်မှ ပယ်ဖျက်သောမြေ၊ အခြားနည်းအသုံးပြုခွင့်ပေးသောမြေ၊ လူနေထိုင်ရန်၊ အဆောက်အအုံ ဆောက်လုပ်အသုံးပြုရန် ခွင့်ပြုချက်ပေးသောမြေများကို တရားဝင်မြေအသုံးချခွင့်ရရှိရေးအတွက် မြေငှားဂရန်လျှောက်ထားခြင်း၊ မြေလွှဲခြင်းတို့နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေများနှင့်အညီဆောင်ရွက်ခြင်း။

(င) အများပြည်သူအကျိုးငှာ မြေသိမ်းရန်အကြောင်းပေါ်ပေါက်က မြေအလိုရှိသောအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းသည် နိုင်ငံတော်သမ္မတ၏ ကြိုတင်ခွင့်ပြုချက်ရယူခြင်း။

(စ) မြေသိမ်းခြင်းဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍-

(၁) ၁၈၉၄ မြေသိမ်းအက်ဥပဒေ၊ နည်းဥပဒေများနှင့်အညီစနစ်တကျဆောင်ရွက်ခြင်း။

(၂) ရန်ကုန်မြို့တော်စည်ပင်သာယာရေးနယ်နိမိတ်အတွင်း ဖြစ်ပါက The Yangon Development Trust Act, 1920 နှင့် ၁၉၅၁ ခုနှစ်၊ နိုင်ငံတော်ပြည်သူ့အိုးအိမ် ပြန်လည်ထူထောင်ရေးနှင့် မြို့ရွာစည်ပင်သာယာရေးအဖွဲ့ အက်ဥပဒေတို့နှင့်အညီ စနစ်တကျဆောင်ရွက်ခြင်း။

(ဆ) ပြန်လည်စွန့်လွှတ်အပ်နှံသောမြေများကို နိုင်ငံတော်က ပြန်လည်လက်ခံပြီး နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေအဖြစ် နိုင်ငံတော်ကိုယ်စား ပြည်ထဲရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးက အမိန့်ကြော်ငြာစာထုတ်ပြန်သတ်မှတ်ခြင်း။

(ဇ) သိမ်းဆည်းထားသောမြေများအနက်မှ အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း နိုင်ငံတော်သို့ ပြန်လည်အပ်နှံသောမြေနှင့်စပ်လျဉ်း၍ -

(၁) အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းက ရယူအသုံးပြုရန် လိုအပ်လျှင် နိုင်ငံတော်သမ္မတထံ တင်ပြလျှောက်ထားပြီး ခွင့်ပြုချက်ရရှိပါက ပြည်ထောင်စုအစိုးရအဖွဲ့၏အတည်ပြုချက်ဖြင့် မြေအမျိုးအစားအလိုက် စီမံခန့်ခွဲပိုင်ခွင့်ရှိသော သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန သို့မဟုတ် အစိုးရအဖွဲ့အစည်းသို့ တင်ပြခြင်း။

(၂) အထက်အပိုဒ်ခွဲငယ်(၁)အရ တင်ပြချက်ရရှိလျှင် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန သို့မဟုတ် အစိုးရအဖွဲ့အစည်းသည် တည်ဆဲဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီစိစစ်ပြီး မြေလွှဲခြင်း၊ မြေငှားခြင်း သို့မဟုတ် မြေအသုံးပြုခွင့်၊ လုပ်ကိုင်ခွင့်ပြုခြင်းဆိုင်ရာ အမိန့်ကြော်ငြာစာထုတ်ပြန်ခြင်း။

(၃) ပြင်ပပုဂ္ဂိုလ်၊ အဖွဲ့အစည်း သို့မဟုတ် မူလပိုင်ရှင်တို့က မြေကိုရယူအသုံးပြုလိုပါက အဆင့်ဆင့်သော မြေအသုံးချမှုစီမံခန့်ခွဲရေးကော်မတီများသို့ သက်ဆိုင်ရာဥပဒေနှင့်အညီ လျှောက်ထားရယူခြင်း။

၂။ နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေများကို နိုင်ငံတော်ကိုယ်စား ပြည်ထဲရေးဝန်ကြီးဌာနက စီမံဆောင်ရွက်ရာတွင် ရွာမြေ၊ မြို့မြေများစီမံခန့်ခွဲခြင်းနှင့်စပ်လျဉ်း၍ မြေငှားဂရန်ချထားခြင်း၊ မြေသိမ်းခြင်း၊ မြေလွှဲခြင်း၊ အခွန်လွတ်မြေဂရန်ထုတ်ပေးခြင်း၊ ဗဒ္ဓသိမ်ဂရန် ထုတ်ပေးခြင်းနှင့် စားကျက်မြေသတ်မှတ်ထိန်းသိမ်းခြင်း၊ ပယ်ဖျက်ခြင်းကိစ္စရပ်များကို ၁၈၇၆ ခုနှစ် မြေနှင့်အခွန်အက်ဥပဒေနှင့်နည်းဥပဒေများ၊ ၁၈၈၉ ခုနှစ် အထက်မြန်မာနိုင်ငံ မြေနှင့်အခွန်စည်းမျဉ်းဥပဒေနှင့်နည်းဥပဒေများ၊ ၁၈၉၄ခုနှစ် မြေသိမ်းအက်ဥပဒေနှင့်နည်းဥပဒေများ၊ ၁၈၉၈ ခုနှစ် အောက်မြန်မာနိုင်ငံ မြို့နှင့်ကျေးရွာမြေများအက်ဥပဒေနှင့်နည်းဥပဒေများနှင့်အညီ စီမံဆောင်ရွက်လျက်ရှိရာ ယင်းကိစ္စရပ်များကိုဆောင်ရွက်ရာတွင် လိုက်နာဆောင်ရွက်နိုင်ရေးအတွက် လုပ်ထုံးလုပ်နည်းများကို နောက်ဆက်တွဲဖြင့် ပူးတွဲပေးပို့ပါသည်။

၃။ မြေယာနှင့်သက်ဆိုင်သောဥပဒေများအရ မြေအသုံးချမှုစီမံခန့်ခွဲခွင့်အာဏာ အပ်နှင်းခြင်းခံရသော အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများသည် သက်ဆိုင်ရာဥပဒေနှင့်နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များကိုလည်းကောင်း၊ အမိန့်ကြော်ငြာစာ၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများကိုလည်းကောင်း တိကျစွာလိုက်နာဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

**ပူးတွဲ။** မြေငှားဂရန်ချထားခြင်း၊ မြေသိမ်းခြင်း၊ မြေလွှဲဆောင်ရွက်ခြင်းဆိုင်ရာကိစ္စရပ်များတွင် လိုက်နာဆောင်ရွက်ရမည့် လုပ်ထုံးလုပ်နည်းများ(၆)ရွက်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ။

နိုင်ငံတော်သမ္မတရုံး
သမ္မတဦးစီးရုံး
ဒုတိယသမ္မတဦးစီးရုံးများ
ပြည်ထောင်စုတရားလွှတ်တော်ချုပ်
နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး
ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်
ပြည်ထောင်စုရှေ့နေချုပ်ရုံး
ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး

နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေများကို နိုင်ငံတော်ကိုယ်စား ပြည်ထဲရေးဝန်ကြီးဌာနက စီမံဆောင်ရွက်ရာတွင် ရွာမြေ၊ မြို့မြေများစီမံခန့်ခွဲခြင်းနှင့်စပ်လျဉ်း၍ မြေငှားဂရန်ချထားခြင်း၊ မြေသိမ်းခြင်း၊ မြေလွှဲဆောင်ရွက်ခြင်းဆိုင်ရာကိစ္စရပ်များတွင် လိုက်နာဆောင်ရွက်ရမည့် လုပ်ထုံးလုပ်နည်းများ

(၁) မြေငှားခြင်း (Land Lease)။ မြေအသုံးပြုခွင့်ချထားပေးရာတွင် အခွန်လွတ်မြေဂရန် (Grant)၊ မြေငှားဂရန်(Lease)နှင့် လိုင်စင်(Licence)ဟူ၍ (၃)မျိုးခွဲခြားပြီး ခွင့်ပြုချထားပေးလျက်ရှိပါသည်-

(က) အခွန်လွတ်မြေဂရန် (Grant)

(၁) ဘာသာရေးဆိုင်ရာ အဆောက်အအုံ ဆောက်လုပ်အသုံးပြုရန်၊ ဝင်ငွေရလမ်းမရှိသော အများပြည်သူနှင့်သက်ဆိုင်သည့် ရည်ရွယ်ချက်ဖြင့် အသုံးပြုရန် နိုင်ငံတော်ကစီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေလွတ်၊ မြေလပ်ကို အခွန်လွတ်မြေဂရန်ထုတ်ပေးခြင်း၊

(၂) ထိုသို့ထုတ်ပေးရာတွင် နှစ်စဉ်စည်းကြပ်သည့် အခွန်တော်၏ အဆ ၂၀ နှင့် ညီမျှသည့် တန်ဖိုးငွေပေးသွင်းစေ၍ နှစ်စဉ်မြေငှား ရမ်းခပေးဆောင်ရခြင်းမှ ကင်းလွတ်ခွင့်ရသော အပိုင်ပေးဂရန်စာချုပ်ကို လျှောက်ထားသူသို့ ထုတ်ပေးခြင်း။

(ခ) မြေငှားဂရန် (Lease)

(၁) လူနေထိုင်ရန်၊ အဆောက်အအုံဆောက်လုပ်ရန်၊ စက်မှုလက်မှုလုပ်ငန်း၊ သတ္တုတူးဖော်ရေးလုပ်ငန်း၊ မွေးမြူရေးလုပ်ငန်းနှင့် အခြားစီးပွားရေး အဆောက်အအုံဆောက်လုပ် အသုံးပြုရန် အတွက် သက်တမ်းတိုးလဲလှယ်ခွင့်မရှိသော (၁၀)နှစ် နှစ်တို မြေငှားဂရန်၊ ဆောက်လုပ်သည့် အဆောက်အအုံ ကောင်းမွန် ခိုင်ခန့်မှုကို အခြေပြု၍ နှစ်(၃၀)လျှင်တစ်ကြိမ် နှစ်(၉၀)အထိ သက်တမ်းတိုး လဲလှယ်ခွင့်ရှိသော နှစ်(၃၀)နှစ်ရှည်မြေငှား ဂရန်တို့ကို စာချုပ် စည်းကမ်းသတ်မှတ်ချက်များဖြင့် ခွင့်ပြုချ ထားခြင်း၊

(၂) စက်မှုလက်မှုလုပ်ငန်းများနှင့် အခြားစီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ရန်အတွက် မြေကာလတန်ဖိုး၏ ၁၂ % အထိ မြေငှား ရမ်းခတွက်ချက် သတ်မှတ်ပြီး နှစ်(၃၀) စက်မှုမြေငှားဂရန် ထုတ်ပေးခြင်း။

(ဂ) လိုင်စင် (Licence)။ မြို့ကွက်အတည်တကျမရှိသော ရပ်ကွက်များ၊ အကွက်ပိုင်းခြားသတ်မှတ်ထားပြီးသော ကျေးရွာများတွင် လူနေထိုင်ရန်၊ စက်မှုလုပ်ငန်းလုပ်ကိုင်ရန် (၃)နှစ်ထက် မပိုသောကာလအထိ ယာယီ အားဖြင့် အသုံးပြုနိုင်ရန် နှစ်စဉ်မြေငှားရမ်းခဖြင့် လိုင်စင်ထုတ်ပေးခြင်း။

(၂) မြေသိမ်းခြင်း (Land Acquisition)။ မြေသိမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်သမ္မတ၏ ခွင့်ပြုချက်အရ အများပြည်သူအကျိုးငှာ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း တစ်ရပ်ရပ်က အသုံးပြုရန် ရည်ရွယ်ချက်ဖော်ပြ၍ အလိုရှိကြောင်း တင်ပြလာပါက ၁၈၉၄ ခုနှစ် မြေသိမ်းအက်ဥပဒေနှင့်အညီ ဆောင်ရွက်ရပါသည်။ ထိုသို့မြေသိမ်းရာတွင် အနည်းဆုံးလိုအပ်သော မြေဧရိယာကိုသာသိမ်းရန်နှင့် ပြည်သူများနစ်နာမှု မရှိစေရေးအတွက် ဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ သက်သာခွင့်ပေးနိုင်ရေး ဆောင်ရွက်ပြီး မြေသိမ်းခြင်းကို အောက်ပါလုပ်ငန်းစဉ်များဖြင့် ဆောင်ရွက် ရပါမည်-

(က) အများပြည်သူအကျိုးငှာ မြေအလိုရှိသော အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းက အသုံးပြုရန် ရည်ရွယ်ချက်ကိုဖော်ပြ၍ မြေအလိုရှိကြောင်း သက်ဆိုင်ရာ ခရိုင်အုပ်ချုပ်ရေးမှူး ထံသို့ အဆိုပြုလျှောက်ထားရမည်ဖြစ်ပြီး အဆိုပြုလွှာနှင့်အတူ အောက်ပါအချက်များ ပါရှိရပါမည်-

(၁) နိုင်ငံတော်သမ္မတ၏ ခွင့်ပြုချက်၊ သက်ဆိုင်ရာအစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ အုပ်ချုပ်မှုဆိုင်ရာ သဘောတူညီချက်နှင့် ဘဏ္ဍာရေးဆိုင်ရာ သဘောတူညီ ချက်များ၊

(၂) မြေတည်နေရာ၊ မြေအမျိုးအစား၊ မြေဧရိယာကိုဖော်ပြသည့် သက်ဆိုင်ရာ မြေစာရင်းဦးစီးဌာန သို့မဟုတ် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန သို့မဟုတ် သက်ဆိုင်ရာမြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြ စီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၏ သက်သေခံမြေပုံနှင့် မြေရာဇဝင်။ (မြေသိမ်းအမိန့် ဆင့်ဆိုချက် ၃၊ ၁၅/၁)

(ခ) ခရိုင်အုပ်ချုပ်ရေးမှူးက အမှုတွဲဖွင့်လှစ်၍ သတ်မှတ်နည်းလမ်းအတိုင်း အဆင့်ဆင့် စိစစ်တင်ပြပြီး ပြည်ထဲရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးက နိုင်ငံတော်သမ္မတ၏ ခွင့်ပြုချက်အရ အများပြည်သူအကျိုးငှာ မြေကိုအလိုရှိကြောင်း အမိန့်ကြော်ငြာစာ ထုတ်ပြန်၍ မြေသိမ်းကော်လိတ်တော်အရာရှိ ခန့်အပ်တာဝန်ပေးရမည်။ (မြေသိမ်းအက် ဥပဒေပုဒ်မ ၃(ဂ)၊ ၄(၁) (၂)၊ မြေသိမ်း အမိန့်ဆင့်ဆိုချက် ၁၇၊ ၂၈)

(ဂ) မြေကိုအလိုရှိကြောင်း အမိန့်ကြော်ငြာစာထုတ်ပြန်ပြီး ရက်ပေါင်း (၃၀) အတွင်း မြေအတွက် အကျိုးခံစားခွင့်ရှိသူက မြေသိမ်းဆည်းခြင်းနှင့် ပတ်သက်၍ ကန့်ကွက် နိုင်ပါသည်။ သို့သော် နိုင်ငံတော်သမ္မတ၏ အဆုံးအဖြတ်သည် အတည်ဖြစ်သည်။ (မြေသိမ်းအက်ဥပဒေပုဒ်မ ၅(က)(၁))

(ဃ) အဆုံးအဖြတ်အတည်ဖြစ်ပြီးနောက် မြေသိမ်းကော်လိတ္တော်အရာရှိက မြေသိမ်းအမိန့်ကြော်ငြာစာမူကြမ်းကို သတ်မှတ်နည်းလမ်းအတိုင်းအဆင့်ဆင့် စိစစ်တင်ပြပြီး ပြည်ထဲရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးက နိုင်ငံတော်သမ္မတ၏ ခွင့်ပြုချက်အရ သက်ဆိုင်ရာအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းအတွက် မြေကိုသိမ်းဆည်းရန် ရည်ရွယ်ကြောင်း အမိန့်ကြော်ငြာစာထုတ်ပြန်ရမည်။ (မြေသိမ်းအက်ဥပဒေပုဒ်မ ၆)

(င) မြေသိမ်းအမိန့်ကြော်ငြာစာအရ မြေသိမ်းကော်လိတ္တော်အရာရှိသည် အဆိုပါမြေနှင့် ပတ်သက်သည့် ပိုင်ဆိုင်သူ၊ အကျိုးခံစားခွင့်ရှိသူများက မြေလျော်ကြေးရယူလိုကြောင်း စာဖြင့်ရေးသား၍ (၁၅)ရက်အတွင်းလျှောက်ထားရန် အများပြည်သူမြင်နိုင်သောနေရာ၊ ကြော်ငြာသင်ပုန်း၊ အဆိုပါ မြေကွက်နေရာများတွင် ကြော်ငြာစာ ကပ်၍ ကြေညာရမည်။ (မြေသိမ်းအက် ဥပဒေပုဒ်မ ၉(၁)(၂)(၃))

(စ) မြေသိမ်းကော်လိတ္တော်အရာရှိသည် မြေသိမ်းအက်ဥပဒေပုဒ်မ ၄(၁)အရ အမိန့်ကြော်ငြာစာထုတ်ပြန်ပြီးသောအခါ မြေနှင့်သီးနှံလျော်ကြေး ခန့်မှန်းခြေငွေစာရင်းများကို တွက်ချက်ရပါမည်။ သိမ်းဆည်းသည့်မြေအတွက် လျော်ကြေးပမာဏ သတ်မှတ်ရာ၌ ပုဒ်မ၄(၁)အရ အမိန့်ကြော်ငြာစာထုတ်ပြန်သည့်နေ့တွင်ရှိသော မြေ၏ တန်ဖိုး (Market Value)ကို အခြေပြုတွက်ချက်ရမည်။ မြေနှင့်သီးနှံလျော်ကြေး ခန့်မှန်းခြေစာရင်းတွင် မြေ၏ကာလတန်ဖိုးငွေပမာဏ၊ မြေသိမ်းခြင်းကြောင့် ထိခိုက်နစ်နာဆုံးရှုံးရသော အခြားကုန်ကျစရိတ်များ၊ နှစ်ရှည်ပင်နှင့်ရာသီ သီးနှံပင်လျော်ကြေး၊ အဆောက်အအုံများ ဖျက်သိမ်းပြောင်းရွှေ့ကုန်ကျစရိတ်များပါဝင်ရမည်။ (မြေသိမ်းအက်ဥပဒေ ပုဒ်မ ၁၁၊ ၁၅၊ မြေသိမ်းအမိန့်ဆင့်ဆိုချက် ၁၉၊ ၂၀၊ ၃၅၊ ၃၈)

(ဆ) သိမ်းရမည့်မြေသည် လယ်ယာမြေဖြစ်ပါက ၂၀၁၂ ခုနှစ်၊ လယ်ယာမြေ ဥပဒေနှင့် နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များနှင့်အညီ မူလလယ်ယာမြေ လုပ်ပိုင်ခွင့်ရသူ နစ်နာမှုလုံးဝမရှိစေရန် မြေလျော်ကြေးနှင့် သီးနှံလျော်ကြေး ပေးချေခြင်း၊ အခြား သင့်လျော်သည့်နည်းလမ်းဖြင့် စီမံဆောင်ရွက်ပေးခြင်းတို့ကိုပြုလုပ်ရမည်။ (လယ်ယာမြေဥပဒေပုဒ်မ ၂၆၊ ၂၉၊ နည်းဥပဒေ ၆၄၊ ၆၆၊ ၆၇၊ ၆၈)

(ဇ) သိမ်းရမည့်မြေသည် သစ်တောမြေ၊ သဘာဝနယ်မြေ၊ အင်းအိုင်မြေနှင့် စားကျက်မြေ ဖြစ်ပါက ဦးစွာပယ်ဖျက်ခွင့်ရယူပြီး မြေအလိုရှိသည့် အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းသို့

လွှဲပြောင်းပေးနိုင်ရန် တည်ဆဲသက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရမည်။ (သစ်တောဥပဒေပုဒ်မ ၇၊ တောရိုင်းတိရစ္ဆာန်နှင့် သဘာဝအပင်များကာကွယ်ရေးနှင့် သဘာဝနယ်မြေများ ထိန်းသိမ်းရေး ဥပဒေပုဒ်မ ၉၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဥပဒေပုဒ်မ ၂(စ)၊ ရေချိုငါးလုပ်ငန်း ဥပဒေပုဒ်မ ၂၃(ခ)၊ မြေနှင့် အခွန် နည်းဥပဒေ ၆၈၊ ၇၇ နှင့် အမိန့်ဆင့်ဆိုချက် ၁၀၆ )

(ဈ) မြေသိမ်းအက်ဥပဒေပုဒ်မ ၁၁ အရ လျော်ကြေးငွေပမာဏသတ်မှတ်ပြီးနောက် မြေသိမ်းကော်လိတ်တွာအရာရှိသည် မြေကို အနှောင့်အယှက်ကင်းရှင်းစွာဖြင့် လက်ရောက်ရယူနိုင်သည်။ (မြေသိမ်းအက်ဥပဒေပုဒ်မ ၁၆)

(ည) အရေးပေါ်ကိစ္စရပ်များအတွက် မြေလွတ်၊ မြေလပ်နှင့်စိုက်ပျိုးနိုင်သောမြေများကို သိမ်းဆည်းရပါက မြေသိမ်းကော်လိတ်တွာအရာရှိသည် လျော်ကြေးတောင်းဆိုရန် ကြော်ငြာစာထုတ်ပြန်ပြီး၊ (၁၅)ရက်ကုန်ဆုံးပါက မြေသိမ်းအမိန့်ကြော်ငြာစာတွင် ဖော်ပြထားသည့်အတိုင်း သိမ်းယူမည့်မြေကိုအလိုရှိသောဌာနသို့ လက်ရောက်အပ်နှံပေးသော ပြန်တမ်းထုတ်ပေးရပါမည်။ တိုသို့မြေလက်ရောက် သိမ်းဆည်းရယူရာ၌ မြေလက်ရှိဖြစ်သူ ပြောင်းရွှေ့နိုင်စေရန် အနည်းဆုံး၊၄၈၊နာရီ ကြိုတင်အသိမပေးဘဲ လက်ရောက်ရယူခြင်းမပြုရ။ (မြေသိမ်းအက်ဥပဒေပုဒ်မ ၁၇၊ ၁၇(၂)။

(ဋ) လျော်ကြေးငွေနည်းသဖြင့် လက်ခံရယူလိုခြင်းမရှိသော မြေအကျိုးခံစားခွင့်ရှိသူက တရားမရုံးသို့ အမှုလွှဲပေးရန် မြေသိမ်းကော်လိတ်တွာအရာရှိထံသို့ စာဖြင့်ရေးသားလျှောက်ထားနိုင်သည်။ (မြေသိမ်းအက်ဥပဒေပုဒ်မ ၁၈၊

(ဌ) မြေသိမ်းမှုကို တရားမရုံးသည် အများပြည်သူရှေ့မှောက်၌ ကြားနာစစ်ဆေးရမည်ဖြစ်ပြီး မြေ၏ကာလပေါက်ဈေး၌ မြေကိုမဖြစ်မနေသိမ်းယူရမည့် သဘောသဘာဝကို စဉ်းစားလျက် မြေ၏အနေအထားပေါ် မူတည်၍ မြေကာလ ပေါက်ဈေး၏ ၁၅% ကို အပိုဆောင်းတွက်ချက် ဆုံးဖြတ်ပေးရမည်။ (မြေသိမ်းအက် ဥပဒေပုဒ်မ ၂၃၊ ၂၃(၂))

(ဍ) မြေ၏အကျိုးခံစားခွင့်ရှိသူများက မြေကွက်ကို တိုင်းတာခြင်း၊ မြေတန်ဖိုးသတ်မှတ်ခြင်း၊ ကန့်ကွက်ချက်များရှိပါက မြေကိုပြန်လည်တိုင်းတာပေးရန်၊ လျော်ကြေးနှင့် အကျိုးခံစားခွင့်အတွက် ကန့်ကွက်သူတစ်ဦးချင်းအတွက် အမှုတွဲဖွင့်၍ ဖြေရှင်းရပါမည်။ (မြေသိမ်းအမိန့်ဆင့်ဆိုချက် ၂၁၊

(ပ) မြေသိမ်းအက်ဥပဒေအရ လျော်ကြေးသတ်မှတ်ပြီးနောက် မြေတွင်အကျိုးခံစားခွင့်ရှိသူများက လက်ခံရန်ငြင်းဆန်လျှင် လျော်ကြေးငွေများကို တရားရုံးသို့ပေးသွင်းရမည်။ (မြေသိမ်းအက်ဥပဒေပုဒ်မ ၁၈၊ ၃၁(၂))

(ဏ) ရန်ကုန်မြို့တော်စည်ပင်သာယာရေး နယ်နိမိတ်အတွင်းနှင့် နယ်နိမိတ်ထိစပ်ဝန်းကျင်ရှိ မြို့ပြစီမံကိန်း၊ ဖွံ့ဖြိုးရေးစီမံကိန်းများဆောင်ရွက်ရန် သို့မဟုတ် မြို့ရွာစည်ပင်သာယာရေးနှင့် ပြည်သူ့အိုးအိမ်ပြန်လည်ထူထောင်ရေးလုပ်ငန်း တိုးတက်အောင်ဆောင်ရွက်ရန်၊ မြေနှင့် အဆောက်အအုံများကို သိမ်းယူရန်ဖြစ်ပါက နိုင်ငံတော်သမ္မတ၏ ခွင့်ပြုချက်ရယူပြီး ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးက သို့မဟုတ် နိုင်ငံတော်သမ္မတက ခန့်အပ်တာဝန်ပေးသော အာဏာပိုင်က The Yangon Development Trust Act, 1920 နှင့် ၁၉၅၁ ခုနှစ်၊နိုင်ငံတော်ပြည်သူ့အိုးအိမ်ပြန်လည်ထူထောင်ရေးနှင့် မြို့ရွာစည်ပင်ရေးအဖွဲ့အက်ဥပဒေတို့နှင့်အညီ မြေသိမ်းလုပ်ငန်းရပ်များ ဆောင်ရွက်ပေးရမည်။

(၃) မြေလွှဲခြင်း (Land Transfer)

(က) အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများသည် အများပြည်သူအကျိုးစီးပွားအတွက် နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေများကို ရယူအသုံးပြုလိုပါက နိုင်ငံတော်သမ္မတ၏ ခွင့်ပြုချက်ရယူပြီး သက်ဆိုင်ရာခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့ လျှောက်ထားရမည်၊

(ခ) ခရိုင်အုပ်ချုပ်ရေးမှူးက မြေလွှဲအမှုတွဲဖွင့်၍ အဆင့်ဆင့်စိစစ်တင်ပြရာတွင် ပြည့်စုံမှန်ကန်ပါက မြေနှင့်အခွန် အမိန့်ဆင့်ဆိုချက် ၃၃၂၊ ၃၃၃၊ ၃၃၄၊ ၃၃၅၊ ၃၃၆ တို့အရ ပြည်ထဲရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးက မြေလွှဲအမိန့်ကြော်ငြာစာ ထုတ်ပြန် လွှဲပြောင်းပေးရမည်၊

(ဂ) မြေလွှဲအမိန့်ကြော်ငြာစာတွင် လွှဲပြောင်းပေးသည့် မြေအား အသုံးမပြုသောနေ့တွင် နိုင်ငံတော်သို့ ပြန်လည်အပ်နှံရမည်ဟု ဖော်ပြထားပြီးဖြစ်သည့် အတွက် နိုင်ငံတော်က အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းဟစ်ခုခုသို့ လွှဲပြောင်းပေးအပ်ထားသော မြေအနက်မှ အသုံးမပြုသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုလည်းကောင်း အသုံးမပြုသောနေ့တွင် နိုင်ငံတော်သို့ ပြန်လည်အပ်နှံရမည်၊

**နောက်ဆက်တွဲအဆ**

(ဃ) အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းတစ်ခုခုက အမည်ပေါက်ရယူထားသောမြေကို အခြ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းပေးရန်အခြေအနေ မပေါ်ပေါက်ပါ အမည်ပေါက်ရရှိထားသည့်ဌာနမှ နိုင်ငံတော်သို့ပြန်လည် အပ်နှံရမည်၊ အဆိုပါအပ် သည့်မြေကို ပြည်ထဲရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးက အမိန့်ကြော်ငြာစ ထုတ်ပြန်၍ နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေအဖြစ် သတ်မှတ်မည်ဖြစ်ပါသည်

၄(င) အဆိုပါအပ်နှံသည့်မြေကို ရယူလိုသော အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း အခြားအဖွဲ့အစည်း၊ ပုဂ္ဂိုလ်များက နိုင်ငံတော်သမ္မတထံသို့ တင်ပြလျှောက်ထာ ရမည်ဖြစ်ပြီး သဘောတူခွင့်ပြုချက်ရရှိပါက ပြည်ထောင်စုအစိုးရအဖွဲ့၏ အတည်ပြု ချက်ဖြင့် နိုင်ငံတော် ကိုယ်စား ပြည်ထဲရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးက အမိန့်ကြော်ငြာစာထုတ်ပြန်၍ မြေလွှဲပေးမည် ဖြစ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန
**ရုံးအမှတ်(၅၀)၊ နေပြည်တော်**

စာအမှတ်၊ ၂/ဂုန်လျှော်/ ၂-၄ / ၅၂၅ / ၂၀၁၅
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ မေလ၊ ၁၈ ရက်

သို့

ခရိုင်အုပ်ချုပ်ရေးမှူး
အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
တောင်ငူခရိုင်၊ပဲခူးတိုင်းဒေသကြီး

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်အတွင်းအတွင်းတည်ရှိသော စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ဂုန်လျှော်သီးနှံဌာနခွဲလက်အောက်ရှိစက်ရုံ(၂)၏အခမဲ့မြေလွှဲအမိန့်ထုတ်ပေးနိုင်ရေးကိစ္စ**

ရည်ညွှန်းချက် ။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၅.၁၂.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၃၄၇၆/ ၃၅၆-မြေ ၂-၁/အဖရ(၂၀၁၄)

၁။ နိုင်ငံတော်ကစီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေများကိုနိုင်ငံတော်ကိုယ်စားပြည်ထဲရေးဝန်ကြီးဌာနက စီမံဆောင်ရွက်ရာတွင် ရွာမြေ၊ မြို့မြေများ စီမံခန့်ခွဲခြင်းနှင့်စပ်လျဉ်း၍ မြေငှားဂရန်ချထားခြင်း၊ မြေသိမ်းခြင်း၊မြေလွှဲခြင်း၊ အခွန်လွတ်မြေဂရန်ထုတ်ပေးခြင်း၊ ဗဒ္ဓသိမ်ဂရန်ထုတ်ပေးခြင်းနှင့် စားကျက်မြေသတ်မှတ်ထိန်းသိမ်းခြင်း၊ ပယ်ဖျက်ခြင်းကိစ္စရပ်များကို ၁၈၇၆ ခုနှစ် မြေနှင့်အခွန်အက်ဥပဒေနှင့် နည်းဥပဒေများ၊ ၁၈၈၉ ခုနှစ် အထက်မြန်မာနိုင်ငံ မြေနှင့်အခွန်စည်းမျဉ်းဥပဒေနှင့်နည်းဥပဒေများ၊ ၁၈၉၄ ခုနှစ် မြေသိမ်းအက်ဥပဒေနှင့်နည်းဥပဒေများ၊ ၁၈၉၈ခုနှစ် အောက်မြန်မာနိုင်ငံ မြို့နှင့်ကျေးရွာမြေများ အက်ဥပဒေနှင့်နည်းဥပဒေများနှင့်အညီ စီမံဆောင်ရွက်လျက်ရှိရာ ယင်းကိစ္စရပ်များကို ဆောင်ရွက်ရာတွင် လိုက်နာဆောင်ရွက်နိုင်ရေးအတွက် လုပ်ထုံးလုပ်နည်းများကို ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ ရည်ညွှန်းပါစာဖြင့် ညွှန်ကြားလာပါသည်။

၂။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်အတွင်းတည်ရှိသော စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ ဂုန်လျှော်သီးနှံဌာနခွဲလက်အောက်ရှိ အုတ်တွင်းချဉ်ပေါင်ပျော့ဖတ်စက်ရုံ၏ မြေဧရိယာ(၂၉၁.၉၀)ဧကနှင့် တောင်ငူလျှော်ရွှေးလျှော်ထုပ်စက်ရုံ၏ မြေဧရိယာ(၆.၉၆၇)ဧကတို့အတွက် ပုံစံ(၁၀၅)သာ ရရှိထားပြီး မြေငှားဂရန်အားရယူထားခြင်း မရှိသေးပါ။

၃။ သို့ဖြစ်ပါ၍ပဲခူးတိုင်းဒေသကြီး၊တောင်ငူခရိုင်အတွင်းတည်ရှိသောစက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ ဂုန်လျှော်သီးနှံဌာနခွဲလက်အောက်ရှိ စက်ရုံ(၂)ရုံ၏ မြေငှားဂရန်အစားအခမဲ့မြေလွှဲအမိန့်အား ထုတ်ပေးနိုင်ပါရန် မေတ္တာရပ်ခံ အကြောင်းကြားပါသည်။

ညွှန်ကြားရေးမှူးချုပ် ( )
(ဖဲဆောင်၊ ညွှန်ကြားရေးမှူး၊ ဂုန်လျှော်သီးနှံ)

မိတ္တူကို

- မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ __________ မြို့နယ်။
- ရုံးလက်ခံ - မျှောစာတွဲ

LH